အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် HDDES Natural Products (Myanmar) Limited တည်ထောင်၍ တန်ဖိုးမြှင့် စိုက်ပျိုးရေး ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - HDDES Natural Products (Myanmar) Limited<br>- Mr. Hettiyahandi Gehan Kaminda De Silva |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Mr. Hettiyahandi Dharmasiri De Silva (သီရိလင်္ကာနိုင်ငံ) ၂၀%<br>- Mr. Hettiyahandi Gehan Kaminda De Silva (သီရိလင်္ကာနိုင်ငံ) ၂၀%<br>- Mr. Hettiyahandi Mevan Shaminda De Silva (သီရိလင်္ကာနိုင်ငံ) ၂၀%<br>- Mr. Hettiyahandi Jeevan Ravinda De Silva (သီရိလင်္ကာနိုင်ငံ) ၂၀%<br>- ဦးမြတ်သူ (မြန်မာ) ၁၈%<br>- ဒေါ်မြတ်စန္ဒာထွန်း (မြန်မာ) ၂% |
| | လုပ်ငန်းအမျိုးအစား | - တန်ဖိုးမြှင့် စိုက်ပျိုးရေး ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၁၂၁/၁၂၃၊ သီလဝါစက်မှုဇုန်၊ သံလျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေအသုံးပြုခွင့် ရရှိသူ | - ဦးမြတ်သူ၊ ဒေါ်မြတ်စန္ဒာထွန်း |
| | မြေအမျိုးအစား | - စက်မှုဇုန်မြေ |
| | မြေအကျယ်အဝန်း | - မြေ(၁.၈၃၄)ဧကရှိ မြေကွက် ၂ ကွက်<br>- စုစုပေါင်းမြေ ၃.၆၆၈ ဧက(၁၄၈၄၃.၈၈ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၂၅၀′ x ၁၂၀′ ရှိ စက်ရုံ (၁) လုံး<br>- ၁၀၀′ x ၁၀၀′ ရှိ Warehouse (၁) လုံး |

| | | |
|---|---|---|
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်နှစ်စုစုပေါင်းမြေငှားရမ်းခကျပ် ၇၂,၀၀၀,၀၀၀<br>- (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၄၈၅၀.၅၂ ကျပ်နှုန်း) |
| ၅။ | မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း<br>ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း<br>တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ကနဦး ၃၀ နှစ်<br>- ကနဦး ၃၀ နှစ်<br>- ၁၈ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၅.၄၉၃ သန်း |

| | | ပြည်ပ (US$သန်း) | ပြည်တွင်း (US$သန်း) | စုစုပေါင်း (US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား(ချေးငွေ) | ၁.၅၀၀ | | ၁.၅၀၀ |
| (ခ) | မြေငှားရမ်းခ | | ၁.၀၉၅ | ၁.၀၉၅ |
| (ဂ) | စက်ပစ္စည်းကိရိယာ တန်ဖိုး | ၂.၆၁၀ | | ၂.၆၁၀ |
| (ဃ) | အခြားပစ္စည်း တန်ဖိုး | ၀.၂၈၈ | | ၀.၂၈၈ |
| | စုစုပေါင်း | ၄.၃၉၈ | ၁.၀၉၅ | ၅.၄၉၃ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၂၆၂၃ ဦး |
| | ပြည်တွင်း | - ၂၆၁၄ ဦး (စက်ရုံဝန်ထမ်း-၈၉ နှင့် စိုက်ပျိုးရေးလုပ်သား-၂၅၂၅ ဦး)(အနိမ့်ဆုံးလစာမှာ US$ ၁၂၀ ဖြစ်ပြီးအမြင့်ဆုံး လစာ မှာ US$ ၁,၂၅၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၉ ဦး(အနိမ့်ဆုံးလစာမှာ US$ ၆၉၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၇,၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ်<br>ထုတ်လုပ်မှု(ပုံမှန်နှစ်) | -ပြည်ပ ၉၀ %၊ ပြည်တွင်း ၁၀% |

| စဉ် | အမျိုးအစား | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|
| | | အရေအတွက် (Kg) | ရောင်းဈေးနှုန်း (ကျပ်/Kg) | အရေအတွက် (Kg) | ရောင်းဈေးနှုန်း (US$/ Kg) |
| (က) | Ginger Oleoresin | ၁,၁၈၈ | ၆၉,၀၀၀ | ၅၈,၂၁၂ | ၄၆ |
| (ခ) | Black Pepper Oleoresin | ၁,၀၉၀ | ၇၅,၀၀၀ | ၅၃,၃၉၀ | ၅၀ |
| (ဂ) | Moringa Leaves | ၃၇၅ | ၂၇,၀၀၀ | ၇,၁၂၅ | ၁၈ |
| (ဃ) | Gotukola | ၅၀၀ | ၂၂,၅၀၀ | ၉,၅၀၀ | ၁၅ |
| (င) | Ginger Oil | | | ၂၃,၇၆၀ | ၁၀၇ |
| (စ) | Vanilla Dried Beans | | | - | - |
| (ဆ) | Paprika Oil | | | ၈,၄၀၀ | ၃၃ |
| (ဇ) | Paprika Oleoresin | | | ၁၆,၈၀၀ | ၃၀ |

| | | | | | | |
|---|---|---|---|---|---|---|
| | (ဈ) | Turmeric Oil | | | ၁,၈၉၀ | ၇၃ |
| | (ည) | Turmeric Oleoresin | | | ၇,၅၆၀ | ၃၈ |
| | (ဋ) | Black Pepper Oil | | | ၁၈,၁၆၀ | ၇၂ |
| | (ဌ) | Jasmine Absolute | | | ၁,၄၆၃ | ၁,၅၀၀ |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | | - ၇၂၀,၀၀၀ kWh | | | |
| ၁၀။ | အခြားတင်ပြချက် | | - မြေပိုင်ရှင် ဦးမြတ်သူနှင့် ဒေါ်မြတ်စန္ဒာထွန်းနှင့် HDDES Natural Products (Myanmar) Limited တို့ကြား ချုပ်ဆိုထားသည့် မြေငှားရမ်းစာချုပ် (မူကြမ်း) ၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ စက်မှုလက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့် ထောက်ခံချက်နှင့် ဦးမြတ်သူ၊ ဒေါ်မြတ်စန္ဒာထွန်းနှင့် သီရိလင်္ကာနိုင်ငံမှ Shareholder (၄)ဦးဖြစ်သော Mr. Hettiyahandi Dharmasiri De Silva, Mr. Hettiyahandi Gehankaminda De Silva, Mr. Hettiyahandi Mevan Shaminda De Silva, Mr. Hettiyahandi Jeevan Ravinda De Silva တို့အကြား ချုပ်ဆိုသည့် ဖက်စပ်စာချုပ်(မူကြမ်း)၊ Mr. Hettiyahandi Dharmasiri De Silva, Mr. Hettiyahandi Gehankaminda De Silva, Mr. Hettiyahandi Mevan Shaminda De Silva, Mr. Hettiyahandi Jeevan Ravinda De Silva နှင့် HDDES Natural Products (Myanmar) Limited တို့အကြား ချုပ်ဆိုမည့် Shareholder Loan Agreement နှင့် Loan Repayment Schedule တို့ကို ပူးတွဲတင်ပြထားပါ သည်။<br>- HDDES Natural Products (Myanmar) Limited မှ ချေးငွေ USD (၁.၅) သန်းကို သီရိလင်္ကာနိုင်ငံ Shareholder များထံမှ အတိုးနှုန်း ၄% ဖြင့် ရယူမည် ဖြစ်ပြီး စတင်ယူဆောင်လာသည့်နေ့ရက်မှ ၁ နှစ်ပြည့်ပြီး နောက်ပိုင်းတွင် ပြန်လည်ပေးချေသွားမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် Mr. HGK& HD& HMS& HJR DE SILVA အမည်ဖြင့် ကိုလံဘိုနိုင်ငံ HSBC CINNAMON GARDEN Bank တွင် ၂၆-၉-၂၀၁၉ ရက်စွဲဖြင့် LKR ၁၂,၅၉၄,၆၄၈ (အမေရိကန်ဒေါ်လာ ၆၉,၂၈၉) ရှိကြောင်း တင်ပြထားပါသည်။ | | | |

| | | |
|---|---|---|
| | | - ငွေကြေး အထောက်အထားအဖြစ် Mr. HMS& MRS S T DE SILVA အမည်ဖြင့် ကိုလံဘိုနိုင်ငံ HSBC PREMIER CTR-LK Bank တွင် ၃၁-၁၀-၂၀၁၉ ရက်စွဲဖြင့် LKR ၁၇,၇၉၆,၃၃၅ (အမေရိကန်ဒေါ်လာ ၉၇၉၀၆) ရှိကြောင်း တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် Mr. HGK& MRS L C A DE SILVA အမည်ဖြင့် ကိုလံဘိုနိုင်ငံ HSBC PREMIER CTR-LK Bank တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် LKR ၁၄,၆၁၆,၀၄၉ (အမေရိကန်ဒေါ်လာ ၈၀,၄၁၀) ရှိကြောင်း တင်ပြထားပါသည်။<br>- (1 US$ = 181.77 LKR) ဖြစ်ပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် ဦးမြတ်သူ အမည်ဖြင့် မြန်မာနိုင်ငံ Myanmar Apex Bankတွင် ၆-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂၂,၈၁၃,၁၀၅ ရှိကြောင်း တင်ပြထားပါသည်။<br>-ငွေကြေး အထောက်အထားအဖြစ် ဒေါ်မြတ်စန္ဒာထွန်း အမည်ဖြင့် မြန်မာနိုင်ငံ Myanmar Apex Bank တွင် ၁၁-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၅၀,၀၀၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုချက်နှင့်အတူ Passport (မိတ္တူ)များနှင့် နိုင်ငံသား စိစစ်ရေးကဒ် (မိတ္တူ) တို့အား တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | -အဆိုပြုလုပ်ငန်းသည် ISIC-1040 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်(၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု စာရင်းတွင် ပါဝင်ပါသည်။<br>- ပြည်တွင်း ကုန်ကြမ်းများကို ဝယ်ယူ အသုံးပြုမည်ဖြစ်ပြီး စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးသုံးပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။<br>- ငွေသားထည့်ဝင်မှု အမေရိကန်ဒေါ်လာ ၁.၅ သန်းမှာ အစုရှယ်ယာရင်းနှီးငွေ ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ ခ-၀၆၀/ ၂၀၂၀( ၀၆၂ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် မတ်လ ၃ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် HDDES Natural Products (Myanmar) Limited မှ တန်ဖိုးမြှင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စ

၁။ သီရိလင်္ကာနိုင်ငံရှိ Mr. Hettiyahandi Gehan Kaminda De Silva မှ (၂၀%)၊ Mr. Hettiyahandi Dharmasiri De Silva မှ (၂၀%)၊ Mr. Hettiyahandi Mevan Shaminda De Silva မှ (၂၀%)၊ Mr. Hettiyahandi Jeevan Ravinda De Silva မှ (၂၀%) နှင့် မြန်မာနိုင်ငံရှိ ဦးမြတ်သူ မှ (၁၈%)၊ ဒေါ်မြတ်စန္ဒာထွန်း မှ (၂ %) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် HDDES Natural Products (Myanmar) Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၁၂၀/ ၁၂၃၊ သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၃.၆၆၈ ဧကအား ငှားရမ်း၍ တန်ဖိုးမြှင့် စိုက်ပျိုးရေး ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် မြေပိုင်ရှင် ဦးမြတ်သူနှင့် ဒေါ်မြတ်စန္ဒာထွန်းနှင့် HDDES Natural Products (Myanmar) Limited တို့ကြား ချုပ်ဆိုထားသည့် မြေငှားရမ်းစာချုပ်(မူကြမ်း)၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ စက်မှုလက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့် ထောက်ခံချက်တို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁၈ လ ကြာမြင့်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။

၄။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာအမေရိကန်ဒေါ်လာ ၅.၄၉၃ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$သန်း) | ပြည်တွင်း (US$သန်း) | စုစုပေါင်း (US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား(ချေးငွေ) | ၁.၅၀၀ | | ၁.၅၀၀ |
| (ခ) | မြေငှားရမ်းခ | | ၁.၀၉၅ | ၁.၀၉၅ |
| (ခ) | စက်ပစ္စည်းကိရိယာတန်ဖိုး | ၂.၆၁၀ | | ၂.၆၁၀ |
| (ဂ) | အခြားပစ္စည်းတန်ဖိုး | ၀.၂၈၈ | | ၀.၂၈၈ |
| | စုစုပေါင်း | ၄.၃၉၈ | ၁.၀၉၅ | ၅.၄၉၃ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၂၆၁၄) ဦး (စက်ရုံဝန်ထမ်း-၈၉ ဦးနှင့် စိုက်ပျိုးရေးလုပ်သား-၂၅၂၅ ဦး၊ ပြည်ပဝန်ထမ်း (၉) ဦးစုစုပေါင်း (၂၆၂၃) ဦးခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာအမေရိကန်ဒေါ်လာ ၁၂၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁၂၅၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၆၉၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၇၅၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် တန်ဖိုးမြှင့် စိုက်ပျိုးရေး ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ပြည်ပတွင် ၉၀%၊ ပြည်တွင်းတွင်၁၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ပြည်တွင်းရောင်း | | ပြည်ပရောင်း | |
|---|---|---|---|---|---|
| | | အရေအတွက် (Kg) | ရောင်းဈေးနှုန်း (ကျပ်/Kg) | အရေအတွက် (Kg) | ရောင်းဈေးနှုန်း (US$/ Kg) |
| (က) | Ginger Oleoresin | ၁,၁၈၈ | ၆၉,၀၀၀ | ၅၈,၂၁၂ | ၄၆ |
| (ခ) | Black Pepper Oleoresin | ၁,၀၉၀ | ၇၅,၀၀၀ | ၅၃,၃၉၀ | ၅၀ |
| (ဂ) | Moringa Leaves | ၃၇၅ | ၂၇,၀၀၀ | ၇,၁၂၅ | ၁၈ |
| (ဃ) | Gotukola | ၅၀၀ | ၂၂,၅၀၀ | ၉,၅၀၀ | ၁၅ |
| (င) | Ginger Oil | | | ၂၃,၇၆၀ | ၁၀၇ |
| (စ) | Vanilla Dried Beans | | | - | - |
| (ဆ) | Paprika Oil | | | ၈,၄၀၀ | ၃၃ |
| (ဇ) | Paprika Oleoresin | | | ၁၆,၈၀၀ | ၃၀ |
| (ဈ) | Turmeric Oil | | | ၁,၈၉၀ | ၇၃ |
| (ည) | Turmeric Oleoresin | | | ၇,၅၆၀ | ၃၈ |
| (ဋ) | Black Pepper Oil | | | ၁၈,၁၆၀ | ၇၂ |
| (ဌ) | Jasmine Absolute | | | ၁,၄၆၃ | ၁,၅၀၀ |

၇။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကိုပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက် ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၈။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Mr. HGK& HD& HMS& HJR DE SILVA အမည်ဖြင့် ကိုလံဘိုနိုင်ငံ HSBC CINNAMON GARDEN Bank တွင် ၂၆-၉-၂၀၁၉ ရက်စွဲဖြင့် LKR ၁၂,၅၉၄,၆၄၈ (အမေရိကန်ဒေါ်လာ ၆၉,၂၈၉) ရှိကြောင်း၊ Mr. HMS& MRS S T DE SILVA အမည်ဖြင့် ကိုလံဘိုနိုင်ငံ HSBC PREMIER CTR-LK Bank တွင် ၃၁-၁၀-၂၀၁၉ ရက်စွဲဖြင့် LKR ၁၇,၇၉၆,၃၃၅ (အမေရိကန်ဒေါ်လာ ၉၇၉၀၆) ရှိကြောင်း၊ Mr. HGK& MRS L C A DE SILVA အမည်ဖြင့် ကိုလံဘို နိုင်ငံ HSBC PREMIER CTR-LK Bank တွင် ၃၀-၉-၂၀၁၉ ရက်စွဲဖြင့် LKR ၁၄,၆၁၆,၀၄၈ (အမေရိကန်ဒေါ်လာ ၈၀,၄၁၀) ရှိကြောင်း၊ ဦးမြတ်သူ အမည်ဖြင့် မြန်မာနိုင်ငံ Myanmar Apex Bankတွင် ၆-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂၂,၈၁၃,၁၀၅ ရှိကြောင်းနှင့် ဒေါ်မြတ်စန္ဒာထွန်း အမည်ဖြင့် မြန်မာနိုင်ငံ Myanmar Apex Bank တွင် ၁၁-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၅၀,၀၀၅,၀၀၀ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။

၉။ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်၊ သန့်ရှင်းသာယာရေးစီမံချက်နှင့် CSR Project တို့ကိုတင်ပြထားပါသည်။

၁၀။ HDDES Natural Products (Myanmar) Limited၏ ကုမ္ပဏီမှတ်ပုံတင် မိတ္တူနှင့် Mr. Hettiyahandi Dharmasiri De Silva, Mr. Hettiyahandi Gehankaminda De Silva, Mr. Hettiyahandi Mevan Shaminda De Silva, Mr. Hettiyahandi Jeevan Ravinda De Silva နှင့် HDDES Natural Products (Myanmar) Limited တို့အကြား ချုပ်ဆိုမည့် Shareholder Loan Agreement နှင့် Loan Repayment Schedule တို့ကို ပူးတွဲ တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ် သည့် ၄၄/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code-1040 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အားဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) လုပ်ငန်းအတွက် လိုအပ်မည့် ကုန်ကြမ်းများကို ပြည်တွင်းမှ ဝယ်ယူ အသုံးပြုမည် ဖြစ်ပြီး စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးသုံးပစ္စည်းများအား ပြင်ပမှ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) ငွေသားထည့်ဝင်မှု အမေရိကန်ဒေါ်လာ ၁.၅ သန်းမှာ အစုရှယ်ယာရင်းချေးငွေ ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် HDDES Natural Products (Myanmar) Limited မှ တန်ဖိုးမြှင့် စိုက်ပျိုးရေး ထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/ မျှောစာတွဲ

14.2



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ စမက(၃) ၇၀၀၀၂ (၂၁၁/၂၀၂၀)

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၁ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **HDDES Natural Products (Myanmar) Limited မှ ဆောင်ရွက်မည့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၆၀/ ၂၀၂၀ (၀၃၃)

၁။ HDDES Natural Products (Myanmar) Limited မှ မြေကွက်အမှတ်-၁၂၁/၁၂၃၊ သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၃.၆၆၈ ဧကအား ငှားရမ်း၍ တန်ဖိုးမြှင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားသားအစုရှယ်ယာ (၈၀) ရာခိုင်နှုန်းနှင့် မြန်မာနိုင်ငံသား အစုရှယ်ယာ (၂၀) ရာခိုင်နှုန်းပါဝင်သည့် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ပူးတွဲတင်ပြလာသော အဆိုပြုချက်အရ ဂျင်းနှင့် ပန်းငရုတ် သီးနှံများအား ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပြီး ငရုတ်ကောင်းနှင့် အခြား Spices များအား ပြည်ပမှ တင်သွင်း၍ တန်းဖိုးမြှင့်ထုတ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့ခြင်းနှင့် ပြည်တွင်းတွင် ရောင်ချခြင်းများကို ပြုလုပ်သွားမည်ဖြစ်ကြောင်း၊ တောင်သူများနှင့်လည်း ကန်ထရိုက်လယ်ယာ (Contract farming) စနစ်ဖြင့် သီးနှံများကို စိုက်ပျိုးထုတ်လုပ်သွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ HDDES Natural Products (Myanmar) Limited ၏ လုပ်ငန်းရည်ရွယ်ချက်အရ သီးနှံများကို တန်ဖိုးမြှင့်၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချရာမှ နိုင်ငံအတွက် ထိုက်သင့်သော

ငွေကို ရရှိနိုင်ခြင်း၊ ကန်ထရိုက်လယ်ယာနည်းစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ခြင်းဖြင့် တောင်သူများ အကျိုးရှိနိုင်မည်ဖြစ်ခြင်းတို့ကြောင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မျိုးစေ့ဥပဒေ၊ ပိုးသတ်ဆေးဥပဒေ၊ မြေသြဇာဥပဒေနှင့် ကန်ထရိုက် လယ်ယာစနစ်ဆောင်ရွက်ရာတွင် လိုက်နာရန် လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

11. 2. 2020

ဒုတိယဝန်ကြီး(ကိုယ်စား)

(မျိုးတင့်ထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၇/၂၀၂၀)
ရက်စွဲ၊၂၀၂၀ ခုနှစ်၊ ဖေဖော်ဝါရီလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **HDDES Natural Products (Myanmar) Limited မှ တန်ဖိုးမြင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၈-၁-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ-၀၆၀/ ၂၀၂၀(၀၂၉)

၁။ သီရိလင်္ကာနိုင်ငံရှိ Mr. Hettiyahandi Gehan Kaminda De Silva မှ ၂၀%၊ Mr. Hettiyahandi Dharmasiri De Silva မှ ၂၀%၊ Mr. Hettiyahandi Mevan Shaminda De Silva မှ ၂၀%၊ Mr. Hetti-yahandi Jeevan Ravinda De Silva မှ ၂၀% နှင့် မြန်မာနိုင်ငံရှိ ဦးမြတ်သူမှ ၁၈%၊ ဒေါ်မြတ်စန္ဒာထွန်းမှ ၂%၊ အစုရှယ်ယာများ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် HDDES Natural Products (Myanmar) Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၁၂၁/၁၂၃၊ သီလဝါစက်မှုဇုန်၊ သန်လျင်-ကျောက်တန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၃.၆၆၈ ဧက (၁၄,၈၄၃.၈၇ စတုရန်းမီတာ)အား ငှားရမ်း၍ တန်ဖိုးမြင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် (၆) လ ဖြစ်ကြောင်း၊

( ခ) အဆိုပြုလုပ်ငန်းအားမြေ (၁,၄၈၄၃.၈၇ စတုရန်းမီတာ)ပေါ်တွင် (၂၅၀x၁၀၀) ပေရှိစက်ရုံအဆောက်အဦး (၁) လုံး၊ (၁၀၀x၁၀၀)ပေရှိ ပစ္စည်းသိုလှောင်ရုံ (၁) လုံးနှင့် လိုအပ်သောအဆောက်အဦများ တည်ဆောက်ကာ စိုက်ပျိုးရေးဟင်းခတ်အမွှေးအကြိုင်များ၊ ဗယ်နီလာပဲတောင့်များ၊ ဟင်းသီးဟင်းရွက်ထွက် ကုန်များ၊ သစ်သီးများ၊ ပန်းများ၊ ရနံ့အဆီများ၊ ပန်းများမှ အပိုထွက်ပစ္စည်းများနှင့် သစ်သီးများ၊ ဟင်းခတ်အမွှေးအကြိုင်များနှင့် ဆေးဖက်ဝင်အပင်များကို ကာဗွန်ဒိုင်အောက်ဆိုဒ် Extracts နည်းပညာဖြင့် ထုတ်လုပ်ခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်းစသည့်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ကာရောင်းချသွားမည်ဖြစ်ကြောင်း၊

( ဂ) အဆိုပြုလုပ်ငန်းအတွက် ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် အမွှေးအကြိုင်အမျိုးအစား (၁၂) မျိုး၊ စုစုပေါင်း (၁၇၃,၉၀၃ ကီလိုဂရမ်) ထုတ်လုပ်မည်ဖြစ်ပြီး (၁၀) နှစ်အတွင်း (၃၅၉,

၀၁၈ ကီလိုဂရမ်) အထိတိုးမြှင့်ကာ ပြည်တွင်း/ပြည်ပသို့ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) HDDES Natural Products (Myanmar) Limited မှ တန်ဖိုးမြှင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သော အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင် ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံးနှင့် လုပ်ငန်းခွင်သုံး ယာဉ်ယန္တယားများ၊ သယ်ယူပို့ဆောင်ရေး ယာဉ်များနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ နေ့စဉ်ရေဂါလံ (၅၀၀၀) ခန့်အား ပြန်လည်သန့်စင်သည့်စနစ်ဖြင့်သန့်စင်ပြီး အသုံးပြုကာ လုပ်ငန်းဆောင်ရွက်မည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းဆောင်ရွက်ရာတွင်ထွက်ရှိသော စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းမှု၊ အနံ့ဆိုးများထွက်ရှိခြင်းကြောင့် စက်ရုံဝန်ထမ်းများနှင့် စက်ရုံအနီးပတ်ဝန်းကျင်ရှိ ပြည်သူများ၏ကျန်းမာရေးထိခိုက်မှု၊ စက်ရုံမှထုတ်လွှတ်သည့် အခိုးအငွေ့များတွင် အဆုတ်နှင့်အသက်ရှူလမ်းကြောင်း ထိခိုက်စေနိုင်သော အလွန်သေးငယ်သည့် အမှုန်အမွှားများကြောင့် လေထုညစ်ညမ်းမှုစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ HDDES Natural Products (Myanmar) Limited မှ တန်ဖိုးမြှင့် စိုက်ပျိုးရေးထုတ်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် တင်ပြလာခြင်းကိစ္စနှင့်စပ်

လျှင်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်းသဘော ထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေ မည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံ ကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင် ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက် သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအ ပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင် ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ ရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက် မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအ တွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Envir-

onmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကို လည်းရယူဆောင်ရွက်ရန်၊

၆/၂/၂၀၂၀

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ